ပုံစံ (မနသ - ၂)

# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်

## ခွင့်ပြုမိန့်

ခွင့်ပြုမိန့် အမှတ်၊ မနသ - ၈၉၈ / ၂၀၁၃ ။ ၂၀၁၃ ခုနှစ်၊ မတ် လ ၂၆ ရက်။

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၀ အရ ဤခွင့်ပြုမိန့်ကို ထုတ်ပေးလိုက်သည်။

(က) ရင်းနှီးမြှုပ်နှံသူ၏ အမည် ........ ဒေါ်သန်းသန်းအေး

(ခ) အဘ အမည် ........ ဦးသိုက်

(ဂ) နိုင်ငံသား/ အမျိုးသားမှတ်ပုံတင်အမှတ် ........ ၁၂ /ထတပ(နိုင်) ၀၀၄၃၈၀

(ဃ) နေရပ်လိပ်စာ ........ အမှတ် -၅၂၇၊ အောင်မြေသာလမ်း၊ (၂)ရပ်ကွက်၊ မရမ်းကုန်းမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး။

(င) ဖွဲ့စည်းထားသည့် သို့မဟုတ် ဖွဲ့စည်းမည့်အဖွဲ့အစည်း ........ Myanmar Last Star Co., Ltd.

(စ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့် လုပ်ငန်းအမျိုးအစား ........ CMP စနစ်ဖြင့် အထည်အမျိုးမျိုး ချုပ်လုပ်ခြင်းလုပ်ငန်း

(ဆ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်သည့် အရပ်ဒေသ (များ) မြေကွက်အမှတ်(၃၀)၊ မြေတိုင်းရပ်ကွက်အမှတ်(၁၄) ကုန်းဘောင်လမ်း၊ လှိုင်သာယာ စက်မှုဇုန်(၇)၊ လှိုင်သာယာမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး။

(ဇ) မတည်ငွေရင်းပမာဏ (ကျပ်) ........ ၆၇.၃၂ (သန်း) (စုစုပေါင်းကျပ် ခြောက်ဆယ့်ခုနစ်သန်း၊ သုံးသိန်းနှစ်သောင်းခန့်)

ဥက္ကဋ္ဌ

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မတီ

**မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်**

အမိန့်ကြော်ငြာစာအမှတ်၊ ၃၂ /၂၀၁၃(မနသ)

၂၀၁၃ ခုနှစ် မတ် လ ၂၉ရက်

၁။ မြန်မာကုမ္ပဏီဖြစ်သော Myanmar Last Star Co., Ltd. မှ ရန်ကုန်တိုင်း ဒေသကြီး၊ လှိုင်သာယာမြို့နယ်၊ လှိုင်သာယာစက်မှုဇုန်(၇)၊ ကုန်းဘောင်လမ်း၊ မြေတိုင်းရပ်ကွက် အမှတ်-၁၄၊ မြေကွက်အမှတ်-၃၀ရှိ မြေ (၀.၂၇၅) ဧက နှင့် ယင်းမြေပေါ်ရှိ အဆောက်အဦအား ငှားရမ်း၍ CMP စနစ်ဖြင့် အထည်အမျိုးမျိုး ချုပ်လုပ်ခြင်း လုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြချက်အား (၂၉-၃-၂၀၁၃) နေ့တွင် ကျင်းပသော မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ (၁၁/၂၀၁၃) အစည်းအဝေး၌ တင်ပြခဲ့ရာ ခွင့်ပြုကြောင်း ဆုံးဖြတ်ခဲ့ပါသည်။ အဆိုပါ ဆုံးဖြတ်ချက်အရ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း(၅)၊ ပုဒ်မ ၁၀ အရ အပ်နှင်း ထားသော လုပ်ပိုင်ခွင့်များကို ကျင့်သုံးလျက် Myanmar Last Star Co., Ltd. အား CMP စနစ်ဖြင့် အထည်အမျိုးမျိုး ချုပ်လုပ်ခြင်း လုပ်ငန်း ဆောင်ရွက်နိုင်ရန်အတွက် ခွင့်ပြုမိန့် အမှတ်၊ မနသ- ၈၉၈/၂၀၁၃ ကို ထုတ်ပေးလိုက်သည်။

၂။ Myanmar Last Star Co., Ltd. အနေဖြင့် ဤခွင့်ပြုမိန့်အရ ထုတ်လုပ်မှုလုပ်ငန်း ဆောင်ရွက်ရာတွင် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း(၇)၊ ပုဒ်မ ၁၂ အရ ထုတ်လုပ်မှု လုပ်ငန်း စီးပွားဖြစ် စတင်သောနှစ် အပါအဝင် တစ်ဆက်တည်း(၃)နှစ် အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့်နှင့် ယင်း ဥပဒေပုဒ်မ ၁၃ ပါ ပြဋ္ဌာန်းချက်များ နှင့်အညီ အောက်ဖော်ပြပါ အခွန်ကင်းလွတ်ခွင့် နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုနိုင်ရန် ဤအမိန့်ကြော်ငြာစာကို ထုတ်ပြန်လိုက်သည် -

(က) ဥပဒေပုဒ်မ ၁၃(ခ)အရ လုပ်ငန်းက နိုင်ငံခြားသို့ တင်ပို့ရောင်းချခြင်းမှ နိုင်ငံခြားငွေဖြင့် ရရှိသည့် အမြတ်ငွေပေါ်တွင် ၅၀% အထိ ကာလအကန့်အသတ်ဖြင့် ဝင်ငွေခွန် သက်သာခွင့် ခံစားနိုင်ရန်အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့် (၃)နှစ် ခံစားပြီးနောက် လုပ်ငန်း၏ အမှန်တကယ် အကောင်အထည် ဖော်နိုင်မှု အခြေအနေကို ဖော်ပြလျက် ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ခ) ဥပဒေပုဒ်မ ၁၃(ဂ) အရ ထုတ်လုပ်မှု လုပ်ငန်းကြောင့် သတ်မှတ်သည့် နှုန်းအထိ ပြည်တွင်း ပြည်ပ ဝင်ငွေတိုးတက်မှု ရှိပါက သတ်မှတ်ချက်နှင့်အညီ ဝင်ငွေခွန် သက်သာခွင့် ခံစားနိုင်ရန်အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့်ကာလ ကုန်ဆုံးပြီးသည့် အခါ လုပ်ငန်း အကောင်အထည်ဖော် ဆောင်ရွက်နိုင်မှု အခြေအနေကို ဖော်ပြ လျှက် ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ဂ) ဥပဒေပုဒ်မ ၁၃(စ) အရ လုပ်ငန်းမှ ရရှိသည့် အမြတ်ငွေကို သီးသန့်ရန်ပုံငွေ ထား၍ တစ်နှစ် အတွင်း လုပ်ငန်း၌ ပြန်လည် ရင်းနှီးမြှုပ်နှံလျှင် ထိုအမြတ်ငွေအပေါ်

ဝင်ငွေခွန် ကင်းလွတ်ခွင့် သို့မဟုတ် သက်သာခွင့်ခံစားနိုင်ရန်အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့် ကာလကုန်ဆုံးပြီး၍ အမှန်တကယ် ပြန်လည် ရင်းနှီးမြှုပ်နှံမှု ပြုလုပ်သည့်အခါ လုပ်ငန်းအမှန်တကယ် အကောင်အထည်ဖော်မှု အခြေအနေကို ဖော်ပြလျက် ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ဃ) ဥပဒေပုဒ်မ ၇၃(ဆ)အရ စက်ပစ္စည်း သို့မဟုတ် လုပ်ငန်းသုံး မတည်ပစ္စည်းများအပေါ် တန်ဖိုးလျှော့ငွေကို သတ်မှတ်သည့်နှုန်းအတိုင်း နှစ်တိုတို နှင့် မူလတန်ဖိုး ပြည့်မီသည်အထိ အမြတ်ငွေမှ နှုတ်ပယ်ခွင့်နှင့် စပ်လျဉ်း၍ ယင်းတန်ဖိုးလျှော့နှုန်းထားများကို ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(င) ဥပဒေပုဒ်မ ၇၇(ဇ) အရ ကနဦး ရင်းနှီးမြှုပ်နှံမှု ကာလအတွင်း ပြည်တွင်း၌ မရရှိ နိုင်သည့် အမှန်တကယ် လိုအပ်၍ ပြည်ပမှ တင်သွင်းသော စက်ပစ္စည်း၊ စက်အရန်ပစ္စည်း၊ စက်ကိရိယာ အစိတ်အပိုင်း၊ လုပ်ငန်းသုံး မတည်ပစ္စည်းများ အပေါ် အကောက်ခွန် နှင့် အခြားပြည်တွင်း အခွန်အကောက်များကို ကင်းလွတ်ခွင့်ပြုသည်။

(စ) ဥပဒေပုဒ်မ ၇၇(ဈ)အရ သတ်မှတ်ထားသည့် ကနဦးရင်းနှီးမြှုပ်နှံမှု ကာလကုန်ဆုံး၍ ပထမ(၃)နှစ်အတွက် ပြည်ပမှ တင်သွင်းသည့် လုပ်ငန်းသုံးပစ္စည်းများ အပေါ်တွင် အကောက်ခွန်နှင့် အခြားပြည်တွင်းအခွန်အကောက်များကို ကင်းလွတ် ခွင့်ပြုသည်။

၃။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၇၇(ဇ)နှင့် ၇၇(ဈ)အရ ပြည်ပမှတင်သွင်းသည့် စက်ပစ္စည်းများ၊ စက်အရန်ပစ္စည်းများ၊ လုပ်ငန်းသုံးပစ္စည်းများ နှင့် ပတ်သက်၍ တင်သွင်းမည့် ပစ္စည်းအမျိုးအစား၊ အရည်အသွေး၊ စံချိန်စံညွှန်းများ၊ ဈေးနှုန်းများ သင့်မြတ်မှု စသည်တို့နှင့် စပ်လျဉ်း၍ နိုင်ငံတကာ အသိအမှတ် ပြုထားသည့် စစ်ဆေးရေးကိုယ်စားလှယ် (Inspection Agency)၏ စစ်ဆေးမှုဖြင့် လိုက်နာ ဆောင်ရွက်ရမည်။

၄။ Myanmar Last Star Co., Ltd. သည် ဤခွင့်ပြုမိန့်အရ လုပ်ငန်း ဆောင်ရွက်ရာတွင် မူလအဆိုပြုလွှာ၌ ဖော်ပြထားသည့် **ထုတ်လုပ်မှုနှင့် ပြည်ပတင်ပို့မှု ရည်မှန်းချက်များကို အနိမ့်ဆုံး ရည်မှန်းချက်များ** အဖြစ် ထားရှိ ဆောင်ရွက် အကောင်အထည်ဖော်ရမည်။

၅။ Myanmar Last Star Co., Ltd. သည် ဤအဆိုပြု လုပ်ငန်း၏ စာရင်းများကို သီးခြား ပြုစုထားရှိရမည်။

၆။ အဆိုပြု လုပ်ငန်းကို ဆောင်ရွက်နိုင်ရန်အတွက် မြေနှင့် အဆောက်အဦ အငှားချထားသူ ဦးကြည်ဝင်း နှင့် အငှားချထားခြင်းခံရသူ ဒေါ်သန်းသန်းအေး ၊ (Myanmar Last Star Co., Ltd.) တို့ ချုပ်ဆိုမည့် မြေနှင့် အဆောက်အဦ ငှားရမ်းခြင်း သဘောတူ စာချုပ်ကို လက်မှတ် ရေးထိုး၍ **ထိုက်သင့်သော တံဆိပ်ခေါင်းခွန်များ ထမ်းဆောင်** ပြီးသည့်အခါ ယင်း သဘောတူ စာချုပ်မိတ္တူ (၅)စောင်ကို ဤကော်မရှင်သို့ **မပျက်မကွက်** ပေးပို့ တင်ပြရမည်။

၇။ အဆိုပြု လုပ်ငန်း ဆောင်ရွက်ရာတွင် မြေအသုံးပြုမှု နှင့် စပ်လျဉ်း၍ နိုင်ငံတော် အစိုးရမှ မြေယာနှင့် ပတ်သက်၍ သတ်မှတ် ပြဋ္ဌာန်းသည့် စည်းကမ်းချက်များကို တိကျစွာ လိုက်နာ ဆောင်ရွက်ရမည်။

၈။ Myanmar Last Star Co., Ltd. မှ နိုင်ငံခြားသား ကျွမ်းကျင်သူများ ငှားရမ်းခွင့် ကိစ္စနှင့် စပ်လျဉ်း၍ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေဆိုင်ရာ လုပ်ထုံး လုပ်နည်းများ အခန်း(၉)၊ အပိုဒ် ၃၃ ပါ သတ်မှတ်ချက်များ နှင့် အညီ ဤကော်မရှင် သို့ သီးခြားတင်ပြ လျှောက်ထားရမည်။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ရန်အတွက် ပြည်တွင်း အလုပ်သမားများ ခန့်ထားရာတွင် အလုပ်သမား၊ အလုပ်အကိုင်နှင့် လူမှုဖူလုံရေး ဝန်ကြီးဌာန၊ အလုပ်သမား ညွှန်ကြားရေး ဦးစီးဌာန နှင့် ညှိနှိုင်း ဆောင်ရွက်ရမည်။ ထို့အပြင် အလုပ်ရှင် နှင့် အလုပ်သမား ဆက်ဆံရေး ပြေလည်စေရန် အလေးထား ဆောင်ရွက်ရမည်။ လုပ်ငန်းခွင် သာယာရေးနှင့် စာရင်းဇယားများ စနစ်တကျ ရှိစေရေး အတွက် အဆိုပြုချက်တွင် တင်ပြထားသည့် အတိုင်း စီစဉ်ဆောင်ရွက်ရမည်။

၉။ Myanmar Last Star Co., Ltd. သည် ဤ ခွင့်ပြုမိန့် အရ ထုတ်လုပ်မှု လုပ်ငန်း ဆောင်ရွက်ရာ၌ ပတ်ဝန်းကျင် လေထု၊ ရေထု၊ မြေထု ညစ်ညမ်းမှု၊ မီးဘေး အန္တရာယ် စသည်များ၊ မဖြစ်ပေါ်စေရန်အတွက် လိုအပ်သည့် ပတ်ဝန်း ကျင်ညစ်ညမ်းမှု ထိန်းသိမ်း ကာကွယ်ရေး အစီအမံများကို ဝန်ခံ ကတိပြုထားသည့် အတိုင်း စနစ်တကျ ထားရှိ ဆောင်ရွက်ရမည်။ ထို့ပြင် နိုင်ငံတော်မှ ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင်ထိန်းသိမ်းရေး မူဝါဒ၊ ပတ်ဝန်းကျင် ထိန်းသိမ်းရေး ဥပဒေ၊ အခြားသော ပတ်ဝန်းကျင် ထိန်းသိမ်းရေးဆိုင်ရာ နည်းဥပဒေများ ၊ ညွှန်ကြားချက်များ၊ လုပ်ထုံး လုပ်နည်းများနှင့် အညီ လိုက်နာဆောင်ရွက်ရမည်။ ယင်းသို့ ဆောင်ရွက်ထားမှု အခြေအနေကို ဤကော်မရှင် သို့ **မပျက်မကွက်** အစီရင်ခံရမည်။

၁၀။ Myanmar Last Star Co., Ltd. သည် အဆိုပြုချက်တွင် ဝန်ခံကတိပြုထားသည့် အတိုင်း ပုဂ္ဂလိက စက်မှု လုပ်ငန်း ဥပဒေအရ ပြည်နယ်/ တိုင်းဒေသကြီး စက်မှု ကြီးကြပ်ရေးနှင့် စစ်ဆေးရေး ဦးစီးဌာနတွင် ပုဂ္ဂလိက စက်မှု လုပ်ငန်း မှတ်ပုံတင် ထားရှိဆောင်ရွက်ရမည်။

၁၁။ Myanmar Last Star Co., Ltd. သည် ပူးတွဲပါ ကနဦးလုပ်ငန်း ဆောင်ရွက်မှု အစီရင်ခံစာကို ဤခွင့်ပြုမိန့် ရရှိပြီး(သုံး)လ အတွင်း ဤကော်မရှင်သို့ **မပျက်မကွက်** အစီရင်ခံရမည်။ ထို့အပြင် လုပ်ငန်း အကောင်အထည် ဖော်မှု အခြေအနေများ ကို သတ်မှတ်ထားသော ပုံစံဇယားများဖြင့် (၃)လ တစ်ကြိမ် **မပျက်မကွက်** ပုံမှန် ပေးပို့ အစီရင်ခံရမည်။ အဆိုပြု လုပ်ငန်း၏ စီးပွားဖြစ် စတင်ဆောင်ရွက်သည့် နေ့ရက်ကို စီးပွားဖြစ်စတင်ပြီး (တစ်)လအတွင်း ဤကော်မရှင်သို့ **မပျက်မကွက်** အစီရင်ခံရမည်။

၁၂။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင် ခွင့်ပြုမိန့်တွင် ဖော်ပြထားသည့် ရင်းနှီး မြှုပ်နှံမှု ပြုလုပ်သည့် နေရပ်ဒေသ လိပ်စာနှင့် ရင်းနှီးမြှုပ်နှံသူ၏ အဖွဲ့အစည်း၏ နေရပ်လိပ်စာ (ကုမ္ပဏီ၏

ရုံးခန်းလိပ်စာ နှင့် တယ်လီဖုန်း နံပါတ်) တို့ ပြောင်းလဲမှုရှိတိုင်း ဤကော်မရှင်သို့ **မပျက်မကွက်** တင်ပြ၍ အတည်ပြု ခွင့်ပြုချက်ကို ရယူရမည်။

၁၃။ Myanmar Last Star Co., Ltd. သည် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်နှင့် သက်ဆိုင်ရာ ဝန်ကြီးဌာနများမှ ချမှတ်ထားသော တည်ဆဲ စည်းမျဉ်း စည်းကမ်း သတ်မှတ်ချက်များ ကို လိုက်နာမှု မရှိကြောင်း စစ်ဆေးတွေ့ရှိပါက ဤခွင့်ပြုမိန့်ကို ပြန်လည်ရုပ်သိမ်းသည်အထိ အရေး ယူခြင်း ခံရမည်။

၁၄။ အဆိုပြုလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့် အညီ ဆောင်ရွက် ရမည် ဖြစ်သဖြင့် မည်သည့် နိုင်ငံခြားသား သို့မဟုတ် နိုင်ငံခြား အဖွဲ့အစည်းကမျှ ပိုင်ဆိုင်ခြင်း သို့မဟုတ် တစ်နည်းနည်းဖြင့် စီမံခန့်ခွဲခြင်း မရှိစေရ။ အကယ်၍ နိုင်ငံခြားသား သို့မဟုတ် နိုင်ငံခြား အဖွဲ့အစည်းက ပိုင်ဆိုင်ကြောင်း သို့မဟုတ် တစ်နည်းနည်းဖြင့် စီမံခန့်ခွဲကြောင်း သက်ဆိုင်ရာက စစ်ဆေး တွေ့ရှိလျှင် ပုဂ္ဂလိက စက်မှုလုပ်ငန်းမှတ်ပုံတင်ကို ပယ်ဖျက်ပြီး စက်ရုံ ပိတ်သိမ်းနိုင်ရေး အတွက် သက်ဆိုင်ရာအစိုးရဌာန၊ အဖွဲ့အစည်းနှင့်ညှိနှိုင်းဆောင်ရွက်မည့်အပြင် လုပ်ငန်းအဆိုပြုသူ သည် မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေပုဒ်မ ၁၅(င) အရ နောင်တွင် မည်သည့် ခွင့်ပြုမိန့်မျှ ထုတ်ပေးမည် မဟုတ်သော နာမည်ပျက် စီးပွားရေး စာရင်း၌ ထည့်သွင်းခြင်းခံရမည်။

၁၅။ ဤခွင့်ပြုမိန့် ထုတ်ပေးသည့် နေ့ရက်မှစ၍ (တစ်)နှစ်အတွင်း အဆိုပြုလုပ်ငန်းကို စတင် ဆောင်ရွက်ခြင်း မပြုနိုင်ပါက ဤခွင့်ပြုမိန့်သည် အလိုအလျောက် ပျက်ပြယ်ပြီး ဖြစ်သည်ဟု မှတ် ယူရမည်။

(စိုးသိန်း)
ဥက္ကဌ

စာအမှတ်၊ရက-၆(က)/မ-၁၂၉၈/၂၀၁၃(၄၀၆၅ )
ရက်စွဲ၊ ၂၀၁၃ ခုနှစ် မတ် လ ၂၉ ရက်

**ဖြန့်ဝေခြင်း**

သမ္မတဦးစီးရုံး

ဒုတိယသမ္မတ(၁)ဦးစီးရုံး

ဒုတိယသမ္မတ(၂)ဦးစီးရုံး

ပြည်ထောင်စုအစိုးရအဖွဲ့ရုံး

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်အဖွဲ့ဝင်များ

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်အဖွဲ့ဝင်များ

ပြည်ထဲရေးဝန်ကြီးဌာန

စက်မှုဝန်ကြီးဌာန

ဆောက်လုပ်ရေးဝန်ကြီးဌာန

ဘဏ္ဍာရေးနှင့်အခွန်ဝန်ကြီးဌာန

အမျိုးသားစီမံကိန်းနှင့် စီးပွားရေး ဖွံ့ဖြိုးတိုးတက်မှု ဝန်ကြီးဌာန

အလုပ်သမား၊ အလုပ်အကိုင်နှင့် လူမှုဖူလုံရေးဝန်ကြီးဌာန

ဆက်သွယ်ရေး နှင့် သတင်းအချက်အလက် နည်းပညာ ဝန်ကြီးဌာန

ပတ်ဝန်းကျင် ထိန်းသိမ်းရေးနှင့် သစ်တောရေးရာ ဝန်ကြီးဌာန

လူဝင်မှု ကြီးကြပ်ရေးနှင့် ပြည်သူ့အင်အား ဝန်ကြီးဌာန

လျှပ်စစ်စွမ်းအားဝန်ကြီးဌာန

စီးပွားရေးနှင့် ကူးသန်းရောင်းဝယ်ရေး ဝန်ကြီးဌာန

ရန်ကုန်တိုင်းဒေသကြီး အစိုးရအဖွဲ့၊ ရန်ကုန်မြို့

ဥက္ကဋ္ဌ၊ CMP လုပ်ငန်းများကြီးကြပ်ရေး ကော်မတီ၊ (အလုပ်သမား၊ အလုပ်အကိုင်နှင့် လူမှုဖူလုံရေး ဝန်ကြီးဌာန)

ဥက္ကဋ္ဌ၊ မြန်မာနိုင်ငံတော် ဗဟိုဘဏ်

ညွှန်ကြားရေးမှူးချုပ်၊ စက်မှုကြီးကြပ်ရေးနှင့် စစ်ဆေးရေး ဦးစီးဌာန

ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ အထည်အလိပ် လုပ်ငန်း

ဦးဆောင်ညွှန်ကြားရေးမှူး၊ ပြည်သူ့ ဆောက်လုပ်ရေး လုပ်ငန်း

ညွှန်ကြားရေးမှူးချုပ်၊မြို့ရွာနှင့်အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ အကောက်ခွန် ဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ ပြည်တွင်းအခွန်များ ဦးစီးဌာန

ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ အာမခံ လုပ်ငန်း

ညွှန်ကြားရေးမှူးချုပ်၊ ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများ ညွှန်ကြားမှု ဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ အလုပ်သမားညွှန်ကြားရေး ဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ ဆက်သွယ်ရေး ညွှန်ကြားမှု ဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင် ထိန်းသိမ်းရေးဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ လူဝင်မှု ကြီးကြပ်ရေးနှင့် အမျိုးသားမှတ်ပုံတင်ရေး ဦးစီးဌာန

ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ လျှပ်စစ်ဓါတ်အား လုပ်ငန်း

ညွှန်ကြားရေးမှူးချုပ်၊ ကုန်သွယ်ရေး ညွှန်ကြားမှု ဦးစီးဌာန

ဥက္ကဋ္ဌ၊ မြန်မာနိုင်ငံအထည်ချုပ်လုပ်ငန်းရှင်များအသင်း

ဥက္ကဋ္ဌ၊ ပြည်ထောင်စုမြန်မာနိုင်ငံကုန်သည်များနှင့်စက်မှုလက်မှုလုပ်ငန်းရှင်များအသင်းချုပ်

ဥက္ကဋ္ဌ၊ မြန်မာနိုင်ငံစက်မှုကုန်ထုတ်လုပ်သူများအသင်း

အုပ်ချုပ်မှုဒါရိုက်တာ၊ Myanmar Last Star Co., Ltd.

# MYANMAR LAST STAR COMPANY LIMITED

P.11 . Myakanthar 5 Street , 5 ward , Hlaing Town Ship , Yangon .
Phone ; 09 - 8628432 , 09 - 5019740


M.325
20.3.13
8
ဒုညွှ 20/3

သို့

ဉက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
နေပြည်တော်။

နေ့စွဲ ။ ။၂၀၁၃ ခုနှစ်၊ မတ် လ၊ (၂၀ ) ရက်။

အကြောင်းအရာ။ ။ပတ်ဝန်းကျင်သဘောထားနှင့်အညီပြင်ဆင်တင်ပြမည်ဖြစ်ကြောင်းဝန်ခံကတိပြု တင်ပြခြင်း။

ရည်ညွှန်းချက် ။ ။၂၈–၂–၂၀၁၃ နေ့စွဲပါစာအမှတ် – ရက–၆(က)/မ–၁၂၉၈/၂၀၁၃(၂၇၅၄)

အထက်ပါအကြောင်းအရာနှင့် ပါတ်သက်၍ မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှု ဥပဒေအရ ကျွန်မတို့၏ မြန်မာ နောက်ဆုံး ကြယ်ပွင့် ကုမ္ပဏီ လီမိတက် သည် မြေကွက်အမှတ်– ၃၀၊ မြေတိုင်းရပ်ကွက်အမှတ်–၁၄၊ ကုန်းဘောင်လမ်း၊ လှိုင်သာယာစက်မှုဇုန် (၇)၊ လှိုင်သာယာမြို့နယ်၊ ရန်ကုန် ရှိ (၀.၂၇၅) ဧက ၊အကျယ်အဝန်း ရှိသော မြေပေါ် တွင် CMP စံနစ်ဖြင့် အသင့်ချုပ်ပြီးအထည်အမျိုးမျိုးထုတ်လုပ်သည့် နိုင်ငံတကာအဆင့်မှီ စက်ရုံတည်ထောင်ပြီး ပြည်ထောင်စု မြန်မာနိုင်ငံ တော်တွင် အရည်အသွေး ကောင်းမွန်သော အထည်အမျိုးမျိုးကို ချုပ်လုပ်ပြီး ပြည်ပသို့ ရောင်းချနိုင်ရန်အတွက် ရည်ရွယ်၍ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ခွင့်ပြုမိန့်ကို လျှောက်ထားသော ကုမ္ပဏီ ဖြစ်ပါသည်။

အထည်ချုပ်လုပ်ငန်းကြောင့်ဖြစ်ပေါ် လာနိုင်သည့် ပတ်ဝန်းကျင်ထိခိုက်ပျက်စီးမှုများကို လေ့လာ စီစစ်နိုင်ရန်အတွက်လုပ်ငန်းလည်ပတ်ခြင်းနှင့်ထုတ်လုပ်ခြင်းအဆင့်ဆင့်တို့၏စီမံကိန်းဆိုင်ရာ အချက်အလက်များကိုလည်း ပြည့်စုံစွာ ဆောင်ရွက်သွားပါမည်ဟုဝန်ခံကတိပြုအပ်ပါသည်။

ကုန်ပစ္စည်းထုတ်လုပ်ခြင်းမှ ထွက်ရှိလာမည့်အမှုန်အမွှားများ၊စွန့်ပစ်ပစ္စည်းများနှင့်ရေဆိုးများကြောင့် ပတ်ဝန်းကျင် လေထု၊ရေထုနှင့် မြေထုညစ်ညမ်းမှုများ ဖြစ်ပေါ် လာနိုင်ပါသဖြင့်ပတ်ဝန်းကျင် ညစ်ညမ်းမှု မရှိစေရန်နှင့်လူတို့၏ ကျန်းမာရေးကို မထိခိုက်စေသည့် စီမံချက်များထည့်သွင်းရေးဆွဲဆောင်ရွက်ရန်အတွက် သဘာဝပတ်ဝန်းကျင် ထိခိုက်ပျက်စီးမှု ရှိ/မရှိကြိုတင်လေ့လာဆန်းစစ်မှု (Initial Environmental Examination - IEE )ဆောင်ရွက်ပြီး တွေ့ရှိချက်များအပေါ် အခြေခံ၍ပတ်ဝန်းကျင်ထိန်းသိမ်းရေးစီမံချက် (Environmental Management Paln -EMP)ကိုရေးဆွဲတင်ပြပြီး စီမံချက်ပါအတိုင်းအကောင်အထည်ဖော်ဆောင်ရွက်သွားပါမည်ဟုဝန်ခံကတိပြုအပ်ပါသည်။

နိုင်ငံတော်မှ ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင်ထိန်းသိမ်းရေးဆိုင်ရာ မူဝါဒ၊ ပတ်ဝန်းကျင် ထိန်းသိမ်းရေး ဥပဒေတို့နှင့်အညီလိုက်နာအကောင်အထည်ဖော်ဆက်လက် ဆောင်ရွက် သွားပါမည်ဟုဝန်ခံကတိပြုအပ်ပါသည်။

လေးစားစွာဖြင့်

Than

Daw Than Than Aye
Managing Director
Myanmar Last Star Co., Ltd.

ကန့်သတ်

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

# မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

စာအမှတ်၊ရက-၆(က)/မ-၁၂၉၈/၂၀၁၃( ၃၆၂၈ )

ရက်စွဲ ၊ ၂၀၁၃ ခုနှစ် မတ် လ ၁၈ ရက်

**မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင် သို့ တင်ပြသည့်**

**အမှာစာ**

အကြောင်းအရာ။ **Myanmar Last Star Co., Ltd. မှ CMP စနစ်ဖြင့် အထည် အမျိုးမျိုး ချုပ်လုပ်ခြင်း လုပ်ငန်း ဆောင်ရွက် ခွင့်ပြုပါရန် အဆိုပြုချက် တင်ပြခြင်း ကိစ္စ**

၁။ Myanmar Last Star Co., Ltd. မှ ရန်ကုန်တိုင်း ဒေသကြီး၊ လှိုင်သာယာမြို့နယ်၊ လှိုင်သာယာစက်မှုဇုန်(၇)၊ ကုန်းဘောင်လမ်း၊ မြေတိုင်းရပ်ကွက် အမှတ်-၁၄၊ မြေကွက်အမှတ်-၃၀ ရှိ မြေ (၀.၂၇၅) ဧက နှင့် ယင်းမြေပေါ်ရှိ အဆောက်အဦအား ငှားရမ်း၍ CMP စနစ်ဖြင့် အထည် အမျိုးမျိုး ချုပ်လုပ်ခြင်း လုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက် ခွင့်ပြုပါရန် ရင်းနှီးမြှုပ်နှံသူ ဒေါ်သန်းသန်းအေး (အဘ-ဦးသိုက်) မှ အဆိုပြု တင်ပြလာပါသည်။

၂။ ယင်းအဆိုပြုချက် နှင့်စပ်လျဉ်း၍ ရန်ကုန်တိုင်း ဒေသကြီး အစိုးရအဖွဲ့ CMP လုပ်ငန်းများ ကြီးကြပ်ရေး ကော်မတီ ၊ ပြည်ထောင်စု သမ္မတ မြန်မာနိုင်ငံ ကုန်သည်များ နှင့် စက်မှုလက်မှု လုပ်ငန်းရှင်များ အသင်းချုပ် နှင့် ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာ ဝန်ကြီးဌာနတို့သို့ သဘောထားများ တောင်းခံခဲ့ရာ အောက်ပါအတိုင်း သဘောထား ပြန်ကြားလာပါသည်-

**(က)ရန်ကုန်တိုင်းဒေသကြီး အစိုးရအဖွဲ့ (နောက်ဆက်တွဲ - က)**

(၁) ရင်းနှီးမြှုပ်နှံမှုပြုမည့် မြေနေရာသည် စက်မှုဇုန်မြေဖြစ်သဖြင့် နောင်ပြုလုပ်မည့် (သို့မဟုတ်) လက်ရှိ စီမံကိန်းကို ထိခိုက်နိုင်ခြင်း မရှိပါကြောင်း၊ အဆိုပြုလုပ်ငန်း လုပ်ကိုင်နိုင်ရန်အတွက် မြေနှင့် အဆောက်အဦပိုင်ရှင် ဦးကြည်ဝင်းထံမှ ဒေါ်သန်းသန်းအေးက ငှါးရမ်းခ အဖြစ် တစ်နှစ်လျှင် ကျပ်(၁၂၁)သိန်းနှုန်းဖြင့် (၅)နှစ်စာချုပ် ချုပ်ဆို ငှါးရမ်းထားပါကြောင်း၊

(၂) အဆိုပြုလုပ်ငန်းလည်ပတ်လုပ်ကိုင်ပါက လုပ်သားအင်အား(၂၀၀)ဦး အလုပ်ခန့်ထားနိုင်မည်ဖြစ်သဖြင့် မြို့နယ်ဒေသ အလုပ်အကိုင် အခွင့်အလမ်းနှင့် ဒေသစီးပွားရေး ဖွံ့ဖြိုးတိုးတက်မှုကို အထောက်အကူ ဖြစ်စေပါကြောင်း၊

(၃) ဖော်ပြပါ မြေနေရာသည် စက်မှုဇုန်မြေ ဖြစ်သဖြင့် စက်ရုံအတွက် သုံးစွဲခြင်းအပေါ် ဒေသခံများက လူမှုရေး၊ စီးပွားရေး၊ သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းမှုတို့အရ လက်ခံနိုင်ခြင်း ရှိပါကြောင်း၊

(၄) အဆိုပြုလုပ်ငန်းမှာ သဘာဝပတ်ဝန်းကျင်အား ထိခိုက်နိုင်မှု မရှိပါကြောင်း၊

ကန့်သတ်

**(ခ) CMP လုပ်ငန်းများကြီးကြပ်ရေးကော်မတီ (နောက်ဆက်တွဲ - ခ)**

(၁) CMP ကုန်ကြမ်း လိုအပ်ချက်နှင့် ကုန်ချောထုတ်လုပ်မှု အချိုးအစား ညီညွတ်မှု ရှိ/မရှိနှင့်စပ်လျဉ်း၍ အဆိုပြုချက်ပါ တစ်နှစ်လုံးအတွက် ကုန်ကြမ်းလိုအပ်ချက်မှာ တစ်ထည် လိုအပ်ချက်နှုန်း၊ တားမြစ် သတ်မှတ် စံနှုန်းများနှင့် ကိုက်ညီမှု ရှိပါကြောင်း၊ ကုန်ကြမ်း လိုအပ်ချက် နှင့် ကုန်ချော ထုတ်လုပ်မှု အချိုးအစား ညီညွတ်မှု ရှိပါကြောင်း၊

(၂) CMP လက်ခနှုန်းထားများ တင်ပြထားမှု ဆီလျော်မှု ရှိ/မရှိ နှင့် စပ်လျဉ်း၍ အဆိုပြုချက်ပါ CMP လက်ခနှုန်းထားများသည် လက်ရှိ ရရှိသည့် လက်ခနှုန်းထား နှင့် ဆီလျော်မှု ရှိပါကြောင်း၊

(၃) နှစ်စဉ်ထုတ်လုပ်မှုနှင့် စက်အင်အား၊ လူအင်အား အချိုးအစား ညီညွတ်မှု ရှိ/မရှိ နှင့် စပ်လျဉ်း၍ အဆိုပြုချက်ပါ ထုတ်လုပ်မည့် ပစ္စည်းမှာ Jackets, Pants, Knit Shirt, Shirt များ ထုတ်လုပ်ရန် ပါရှိပြီး Single Needle , Two Needle, Over Lock M/C ပေါင်း(၁၃၀)လုံး နှင့် Skilled Worker (၁၄၀)ဦး၊ Unskilled Worker (၃၀)ဦး တွေ့ရှိပြီး QC, PQC အတွက် တာဝန်ခွဲဝေချထားသင့်ပါကြောင်း၊ (ကုမ္ပဏီမှ QC, PQC အတွက် ထပ်မံ တာဝန်ခွဲဝေ ချထားကြောင်း ပြန်လည် ပြင်ဆင် တင်ပြလာပါသည်။)

(၄) သို့ဖြစ်ပါ၍ Myanmar Last Star Co., Ltd. အနေဖြင့် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ခွင့်ပြုချက်ရရှိပါက အလုပ်အကိုင် အခွင့်အလမ်းများ ပိုမိုရရှိစေပြီး ကုန်ထုတ်စွမ်းအား မြှင့်တင်နိုင်မည်ဖြစ်၍ CMP စနစ်ဖြင့် အထည်ချုပ် လုပ်ခြင်းလုပ်ငန်း လုပ်ကိုင်ခွင့်ကို အားပေး ဆောင်ရွက်သင့်ပါကြောင်း၊

**(ဂ) ပြည်ထောင်စု သမ္မတ မြန်မာနိုင်ငံ ကုန်သည်များနှင့် စက်မှုလက်မှု လုပ်ငန်းရှင်များ အသင်းချုပ် (နောက်ဆက်တွဲ - ဂ)**

Myanmar Last Star Co., Ltd. သည် ရန်ကုန်တိုင်းဒေသကြီး၊ လှိုင်သာယာမြို့နယ်၊ လှိုင်သာယာစက်မှုဇုန်(၇)၊ ကုန်းဘောင်လမ်း၊ မြေတိုင်းရပ်ကွက်အမှတ်-၁၄၊ မြေကွက်အမှတ်-၃၀ ရှိ မြေ(၀.၂၇၅)ဧက နှင့် အဆောက်အဦအား ငှားရမ်း၍ CMP စနစ်ဖြင့် အထည်ချုပ်လုပ်သည့် လုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် လျှောက်ထားခြင်းအပေါ် ကန့်ကွက်ရန် မရှိပါကြောင်း၊

(ဃ)ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာ ဝန်ကြီးဌာန (နောက်ဆက်တွဲ - ဃ)

(၁) အထည်ချုပ် လုပ်ငန်းကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင် ထိခိုက်ပျက်စီးမှုများကို လေ့လာစိစစ်နိုင်ရန်အတွက် လုပ်ငန်း လည်ပတ်ခြင်း နှင့် ထုတ်လုပ်ခြင်း အဆင့်ဆင့်တို့၏ စီမံကိန်းဆိုင်ရာ အချက်အလက်များ ပြည့်စုံစွာဖော်ပြရန်၊

(၂) ကုန်ပစ္စည်းထုတ်လုပ်ခြင်းမှ ထွက်ရှိလာမည့် အမှုန်အမွှားများ၊ စွန့်ပစ် ပစ္စည်းများနှင့် ရေဆိုးများကြောင့် ပတ်ဝန်းကျင် လေထု၊ ရေထုနှင့် မြေထု ညစ်ညမ်းမှုများ ဖြစ်ပေါ်လာနိုင်ပါသဖြင့် ပတ်ဝန်းကျင် ညစ်ညမ်းမှု မရှိစေရန်နှင့် လူတို့၏ ကျန်းမာရေးကို မထိခိုက်စေသည့် စီမံချက်များ ထည့်သွင်းရေးဆွဲဆောင်ရွက်ရန်အတွက် သဘာဝပတ်ဝန်းကျင်ထိခိုက်ပျက်ဆီးမှု ရှိ-မရှိ ကြိုတင်လေ့လာ ဆန်းစစ်မှု (Initial Environmental Examination —IEE) ဆောင်ရွက်ပြီး၊ တွေ့ရှိချက်များအပေါ် အခြေခံ၍ ပတ်ဝန်းကျင်ထိန်းသိမ်းရေးစီမံချက် (Environmental Management Plan _ EMP)ကို ရေးဆွဲပြုစု တင်ပြရန်နှင့် စီမံချက်ပါအတိုင်း အကောင်အထည်ဖော် ဆောင်ရွက်သွားရန်၊

(၃) နိုင်ငံတော်မှ ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင် ထိန်းသိမ်းရေးဆိုင်ရာ မူဝါဒ၊ ပတ်ဝန်းကျင် ထိန်းသိမ်းရေး ဥပဒေတို့နှင့် အညီလိုက်နာ အကောင် အထည်ဖော် ဆောင်ရွက်ရန်၊

(ကုမ္ပဏီမှ ပတ်ဝန်းကျင် ထိန်းသိမ်းရေးနှင့် သစ်တောရေးရာ ဝန်ကြီးဌာန၏ သဘောထား မှတ်ချက်နှင့်အညီ သဘာဝပတ်ဝန်းကျင်ထိခိုက်ပျက်ဆီးမှု ရှိ-မရှိ ကြိုတင် လေ့လာ ဆန်းစစ်မှု (Initial Environmental Examination —IEE) ဆောင်ရွက်ပြီး၊တွေ့ရှိချက်များအပေါ် အခြေခံ၍ ပတ်ဝန်းကျင် ထိန်းသိမ်းရေး စီမံချက် (Environmental Management Plan _ EMP)ကို ရေးဆွဲပြုစုတင်ပြရန်နှင့် စီမံချက်ပါ အတိုင်း အကောင်အထည်ဖော် ဆောင်ရွက်သွား မည်ဖြစ်ကြောင်း ဝန်ခံ ကတိပြုထားပါသည်။)

၃။ လျှပ်စစ်ဓါတ်အားကို မြန်မာ့လျှပ်စစ်ဓါတ်အားလုပ်ငန်းမှ ရယူမည့် အပြင် ကိုယ်ပိုင် မီးစက်ဖြင့် ထားရှိဆောင်ရွက်မည်ဖြစ်ကြောင်း ကုမ္ပဏီမှ တင်ပြထားပါသည်။

၄။ လုပ်ငန်းအဆိုပြုချက်ကို **(နောက်ဆက်တွဲ - ၉ )** ဖြင့် ဖော်ပြထားပါသည်။ လုပ်ငန်း၏ ရင်းနှီးမြှုပ်နှံမှုပမာဏမှာ စုစုပေါင်း ကျပ် (၆၇.၃၂)သန်း ဖြစ်ပြီး ဖြစ်ပါသည်။ စုစုပေါင်း ရင်းနှီးမြှုပ်နှံမှု ပုံစံမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

| | | |
|---|---|---|
| (က) | ငွေသား | ကျပ် ၅.၀၀ သန်း |
| (ခ) | စက်ပစ္စည်းကိရိယာများ | ကျပ် ၅၈.၄၉ သန်း |
| (ဂ) | ပရိဘောဂ | ကျပ် ၃.၈၃ သန်း |
| | စုစုပေါင်းရင်းနှီးမြှုပ်နှံမှု | **ကျပ် ၆၇.၃၂ သန်း** |

၅။ အဆိုပြု လုပ်ငန်းမှ ချုပ်လုပ်ပြီး အထည်များကို CMP စနစ်ဖြင့် ပြည်ပသို့ (၉၉) ရာခိုင်နှုန်း တင်ပို့ရောင်းချပြီး ပြည်တွင်း၌ Reject (၁)ရာခိုင်နှုန်း ရောင်းချမည်ဖြစ်ပါသည်။ ပုံမှန်နှစ်(၅-နှစ်မြောက်)တွင် ထုတ်လုပ်နိုင်မှု နှင့် CMP လက်ခနှုန်းများမှာ အောက်ပါအတိုင်း ဖြစ်ပါသည် -

| စဉ် | အမျိုးအမည် | ထုတ်လုပ်မှု (ဒါဇင်) | CMP လက်ခ နှုန်း (ဒါဇင် /US$) | ပြည်တွင်း ရောင်းဈေးနှုန်း (ဒါဇင် /ကျပ်) |
|---|---|---|---|---|
| ၁။ | Jackets | ၁၀၀၀၀ | ၁၄.၅၀ | ၁၄၃၅၅၀ |
| ၂။ | Pants | ၉၀၀၀ | ၁၁.၀၀ | ၉၈၀၁၀ |
| ၃။ | Knit Shirt | ၁၀၀၀၀ | ၁၁.၀၀ | ၁၀၈၉၀၀ |
| ၄။ | Shirt | ၁၀၀၀၀ | ၁၀.၀၀ | ၉၉၀၀၀ |

၆။ ကုမ္ပဏီသည် CMP စနစ်ဖြင့် အထည်အမျိုးမျိုး ချုပ်လုပ်ခြင်း လုပ်ငန်း ဆောင်ရွက်ရန် အတွက် ဗီယက်နမ် နိုင်ငံ မှ Chin Phong Vietnam Co., Ltd နှင့် Myanmar Last Star Co., Ltd. (မြန်မာကုမ္ပဏီ)တို့ ချုပ်ဆို ထားသည့် Processing Contract ကို တင်ပြထား ပါသည်။

၇။ လုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် ပုံမှန်နှစ်(၅)နှစ်မြောက်တွင် ရရှိမည့် ဝင်ငွေနှင့်အသုံးစရိတ် ခန့်မှန်းခြေ မှာ အောက်ပါ အတိုင်းဖြစ်ပါသည်-

အမေရိကန်တစ်ဒေါ်လာ= ၈၃၀ကျပ်

| စဉ် | | နိုင်ငံခြားငွေဖြင့် US$(သန်း) | ညီမျှသော ကျပ်(သန်း) | ကျပ်ငွေဖြင့် ကျပ်(သန်း) | စုစုပေါင်းကျပ် ကျပ်(သန်း) |
|---|---|---|---|---|---|
| (က) | ဝင်ငွေ | ၀.၄၄၉ | ၃၇၂.၆၇ | ၁၃.၉၂ | ၃၈၆.၅၉ |
| (ခ) | အသုံးစရိတ် | ၀.၀၂၄ | ၁၉.၉၂ | ၃၃၆.၇၀ | ၃၅၆.၆၂ |
| (ဂ) | အသားတင် အမြတ် | ၀.၄၂၅ | ၃၅၂.၇၅ | (-)၃၂၂.၇၈ | ၂၉.၉၇ |

၈။ နိုင်ငံတော်မှ ပုံမှန်နှစ် (၅-နှစ်မြောက်)တွင် ရရှိမည့် အကျိုးအမြတ် ခန့်မှန်းခြေမှာ ဝင်ငွေခွန် ကျပ် ( ၉.၉၉ )သန်း ရရှိမည်ဖြစ်ပါသည်။ လုပ်ငန်း၏ အရင်းကြေ ကာလမှာ (၃) နှစ် (၉) လဖြစ်ပြီး အရင်းအနှီးအပေါ် အကျိုးအမြတ် ပြန်ပေါ်နှုန်း (IRR) မှာ (၃၀.၆၂) ရာခိုင်နှုန်း ဖြစ်ပါသည်။

၉။ လုပ်ငန်း ဆောင်ရွက်ရန် ပြည်တွင်း မှ လုပ်သား(၁၈၈)ဦး နှင့် ပြည်ပမှလုပ်သား (၂)ဦး ခန့်ထားမည် ဖြစ်ပါသည်။ လုပ်ငန်းခွင် သာယာရေး နှင့် ဝန်ထမ်းသက်သာ ချောင်ချိရေး အတွက် ဝန်ထမ်းများအတွက် ကြိုပို့ယာဉ်အခမဲ့စီစဉ်ပေးထားပါကြောင်း၊ ဝန်ထမ်းသက်သာဆိုင် ဖွင့်လှစ်ပေးထားပါကြောင်း၊ အလုပ်ဆင်းရက်မှန်ကန်ပါက ရက်မှန်ဆုကြေးငွေ တစ်လလျှင် ကျပ်(၁၀၀၀၀) ထုတ်ပေးမည်ဖြစ်ပါကြောင်း၊ အချိန်ပိုကြေးအဖြစ် တစ်နာရီလျှင် လုပ်အားခ၏(၂)ဆ တွက်ချက်ပေးပါကြောင်း၊ နာမကျန်းသူများ နားနေရန် နားနေခန်းထားရှိပါကြောင်း၊ ထိခိုက်ဒဏ်ရာ ရရှိပါက လူမှုဖူလုံရေး ဆေးခန်းသို့ စေလွှတ်၍ ဆေးဝါးကုသမှုခံစေပါကြောင်း ကုမ္ပဏီမှ တင်ပြထားပါသည်။

၁၀။ ငွေကြေး အထောက်အထားအဖြစ် ကုမ္ပဏီ၏ ကုမ္ပဏီမှ မန်နေဂျင်း ဒါရိုက်တာဖြစ်သူ ဒေါ်သန်းသန်းအေး အမည်ဖြင့် ကမ္ဘောဇဘဏ်(လှိုင်ဘဏ်ခွဲ)ရှိ (၇-၁-၂၀၁၃)နေ့ ရက်စွဲဖြင့် ငွေလက်ကျန် ကျပ်(၂၀.၀၄)သန်း တင်ပြထားကြောင်း စိစစ်ရပါသည်။ သုံးစွဲမည့် ကျပ်ငွေ ကျပ် (၆၇.၃၂)သန်း၏ (၂၉.၇၆%) တင်ပြ ထားကြောင်း စိစစ်ရပါသည်။

၁၁။ ယင်းလုပ်ငန်းသည် မြန်မာနိုင်ငံသားများသာလျှင် ပိုင်ဆိုင်ပြီး နိုင်ငံခြားမှ မည်သူမျှ ပိုင်ဆိုင်မှု မရှိပါကြောင်း၊ မြေယာပိုင်ဆိုင်မှုနှင့်စပ်လျဉ်း၍ နိုင်ငံတော်အစိုးရမှ မြေယာနှင့် ပတ်သက်၍ သတ်မှတ် ပြဋ္ဌာန်းမည့် စည်းကမ်းချက်များကို လိုက်နာဆောင်ရွက်မည်ဖြစ်ပါကြောင်း၊ ပတ်ဝန်းကျင် ညစ်ညမ်းမှု မဖြစ်ပွားစေရန်အတွက် လိုအပ်သော အစီအမံများ ကြိုတင်ကာကွယ်မှုများ ပြုလုပ်ဆောင်ရွက် ထားမည်ဖြစ်ပါကြောင်း၊ မီးဘေးအန္တရာယ်အတွက် လိုအပ်သော စီမံထားမှု၊ ကြိုတင်ကာကွယ်မှုများ ပြုလုပ်ဆောင်ရွက်မည်ဖြစ်ပါကြောင်း၊ အလုပ်သမားလခနှုန်းထားများသည် အမှန်တကယ် ရရှိမည့် လစာငွေဖြစ်ကြောင်းနှင့် ကာလဒေသပေါက်ဈေးနှင့် ကိုက်ညီမှု ရှိပါကြောင်း၊ ထုတ်လုပ်သည့် ပစ္စည်းများကို CMP စနစ်ဖြင့် နိုင်ငံခြားသို့တင်ပို့မည် ဖြစ်ပါကြောင်း၊ လုပ်ငန်း အသစ်၊ စက်ပစ္စည်းများမှာ အသစ်ဖြစ်ပါကြောင်း၊ အဆိုပြုလုပ်ငန်း ဆောင်ရွက်မှုအတွက် နိုင်ငံခြား ငွေဖြင့် ရရှိသော အခကြေးငွေများကို မြန်မာနိုင်ငံခြား ကုန်သွယ်မှုဘဏ်နှင့် မြန်မာရင်းနှီး မြှုပ်နှံမှုနှင့် ကူးသန်းရောင်းဝယ်ရေးဘဏ်ရှိ ကုမ္ပဏီ၏ ငွေစာရင်းသို့ မပျက်မကွက် ပေးသွင်းမည် ဖြစ်ပါကြောင်း၊ ပုဂ္ဂလိက စက်မှုလုပ်ငန်း ဥပဒေအရ ပြည်နယ်/တိုင်းဒေသကြီး ဒေသန္တရ စက်မှုကြီးကြပ်ရေးနှင့် စစ်ဆေးရေးဦးစီးဌာနတွင် ပုဂ္ဂလိက စက်မှုလုပ်ငန်း မှတ်ပုံတင် ထားရှိမည် ဖြစ်ပါကြောင်း၊ တစ်နှစ်လျှင် လစာကျပ် (၁,၄၄၀,၀၀၀)နှင့်အထက် ရရှိသော ဝန်ထမ်းများ၏ ဝင်ငွေခွန် ပေးဆောင်ရေးကို ကုမ္ပဏီမှ တာဝန်ယူပါကြောင်း၊ ရင်းနှီးမြှုပ်နှံမှုသက်တမ်းမှာ (၃၀)နှစ် ဖြစ်ကြောင်း ဝန်ခံကတိပြု ထားပါသည်။

၁၂။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ ပုဒ်မ ၁၂ အရ ဝင်ငွေခွန် ကင်းလွတ်ခွင့်ကိုလည်းကောင်း၊ ပုဒ်မ ၁၃ အရ အခွန်အကောက် ကင်းလွတ်ခွင့် (သို့မဟုတ်) သက်သာခွင့်များကို လည်းကောင်း ခံစားခွင့်ပြုရပါမည်။

၁၃။ သို့ဖြစ်ပါ၍ Myanmar Last Star Co., Ltd. မှ CMP စနစ်ဖြင့် အထည် အမျိုးမျိုး ချုပ်လုပ်ခြင်း လုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြခြင်း အပေါ် လမ်းညွှန်မှု ခံယူအပ်ပါသည်။

ဥက္ကဌ(ကိုယ်စား)
(ချိုချိုဝင်း၊ ဒုတိယညွှန်ကြားရေးမှူးချုပ်)

မိတ္တူ
- ရုံးလက်ခံ

နောက်ဆက်တွဲ (က)

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
တိုင်းဒေသကြီးအစိုးရအဖွဲ့
ရန်ကုန်တိုင်းဒေသကြီး

စာအမှတ်၊ ၂ / ၃ - ၆ (၅) / စီးပွား
ရက်စွဲ ၊၂၀၁၃ ခုနှစ်၊ ဖေဖော်ဝါရီလ ၁၄ ရက်

သို့
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
နေပြည်တော်

အကြောင်းအရာ။ **သဘောထားမှတ်ချက်တောင်းခံခြင်းကိစ္စ**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၁၇-၁-၂၀၁၃ ရက်စွဲပါ စာအမှတ်၊ ရက-၆(က)/ မ-၁၂၉၈/၂၀၁၃ (၉၈၁)

၁။ Myanmar Last Star Co, Ltd မှရန်ကုန်တိုင်းဒေသကြီး၊ လှိုင်သာယာမြို့နယ်၊ လှိုင်သာယာစက်မှုဇုန်(၇)၊ ကုန်းဘောင်လမ်း၊ မြေတိုင်းရပ်ကွက်အမှတ်(၁၄)၊ မြေကွက်အမှတ်(၃၀)ရှိမြေ(၀. ၂၇၅)ဧကနှင့် အဆောက်အဦအားငှားရမ်း၍ CMP စနစ်ဖြင့်အထည်ချုပ်လုပ်ခြင်းလုပ်ငန်းကို မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေနှင့် အညီဆောင်ရွက်ခွင့်ပြုပါရန် လျှောက်ထားလာခြင်းအပေါ် သဘောထား မှတ်ချက်ပြန်ကြားပေးပါရန် ရည်ညွှန်းစာဖြင့်အကြောင်းကြားလာခြင်းနှင့်ပတ်သက်၍ ကွင်းဆင်းစီစစ်မှုအရ အောက်ပါအတိုင်းသဘောထားမှတ်ချက် တင်ပြအပ်ပါသည်။

(က) ရင်းနှီးမြှုပ်နှံမှုပြုမည့် မြေနေရာသည် စက်မှုဇုန်မြေဖြစ်သဖြင့် နောက်ပြုလုပ်မည့် (သို့မဟုတ်)လက်ရှိစီမံကိန်းကို ထိခိုက်နိုင်ခြင်းမရှိပါ။ အဆိုပြုလုပ်ငန်းလုပ်ကိုင်နိုင်ရန် အတွက် မြေနှင့်အဆောက်အဦပိုင်ရှင် ဦးကြည်ဝင်းထံမှ ဒေါ်သန်းသန်းအေးက ငှားရမ်းခအဖြစ် တစ်နှစ်လျှင်ကျပ်(၁၂၀)သိန်းနှုန်းဖြင့် (၅)နှစ်စာချုပ်ချုပ်ဆိုငှားရမ်း ထားပါသည်။

(ခ) အဆိုပြုလုပ်ငန်းလည်ပတ်လုပ်ကိုင်ပါက လုပ်သားအင်အား(၂၀၀)ဦးအလုပ်ခန့်ထားနိုင်မည်ဖြစ်သဖြင့်မြို့နယ်ဒေသအလုပ်အကိုင်အခွင့်အလမ်းနှင့်ဒေသစီးပွားရေးဖွံ့ဖြိုးတိုးတက်မှုကို အထောက်အကူဖြစ်စေပါသည်။

(ဂ) ဖော်ပြပါမြေနေရာသည်စက်မှုဇုန်မြေဖြစ်သဖြင့် စက်ရုံအတွက်သုံးစွဲခြင်းအပေါ် ဒေသခံများက လူမှုရေး၊စီးပွားရေး၊သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းမှုတို့အရလက်ခံနိုင်ခြင်းရှိပါသည်။

(ဃ) အဆိုပြုလုပ်ငန်းမှာ သဘာဝပတ်ဝန်းကျင်အားထိခိုက်နိုင်မှုမရှိပါ။

၂။ အထက်ဖော်ပြပါအချက်များကြောင့် (၇ . ၂ . ၂၀၁၃)ရက်နေ့တွင် ကျင်းပပြုလုပ်သော ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့အစည်းအဝေးအမှတ်စဉ် (၆/၂၀၁၃)ဆုံးဖြတ်ချက်အပိုဒ်(၁၉၀)အရ Myanmar Last Star Co, Ltd ၏ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီလုပ်ငန်းသစ်ဆောင်ရွက်မှုအားခွင့်ပြုသင့်ပါကြောင်း ထောက်ခံ တင်ပြအပ်ပါသည်။

(မြင့်ဆွေ)
ဝန်ကြီးချုပ်

မိတ္တူကို

ရန်ကုန်တိုင်းဒေသကြီးစီမံကိန်းနှင့်စီးပွားရေးဝန်ကြီး
ရန်ကုန်မြောက်ပိုင်းခရိုင်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန အုပ်ချုပ်ရေးမှူးရုံး
လှိုင်သာယာမြို့နယ်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာနအုပ်ချုပ်ရေးမှူးရုံး
Myanmar Last Star Co.,Ltd.
လက်ခံစာတွဲ
မျှောစာတွဲ

**နောက်ဆက်တွဲ (ခ)**

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
CMP လုပ်ငန်းများကြီးကြပ်ရေးကော်မတီ

စာအမှတ်၊ ၃၄-အလ/ခွဲ(၂) ၂၀၁၃ ( ၁၀၂၄၂ )
ရက်စွဲ၊ ၂၀၁၃ ခုနှစ်၊ ဇန်နဝါရီလ ၂၈ ရက်

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **Myanmar Last Star Co.,Ltd မှ CMP စနစ်ဖြင့် အထည်ချုပ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်အပေါ် သဘောထားမှတ်ချက် ပေးပို့ခြင်း**

ရည်ညွှန်းချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင် ၏ ၁၇.၁.၂၀၁၃ ရက်စွဲပါ စာအမှတ်၊ ရက-၆(က)/မ-၁၂၉၈/၂၀၁၃(၉၈၀)

၁။ ရန်ကုန်တိုင်းဒေသကြီး၊ လှိုင်သာယာမြို့နယ်၊ စက်မှုဇုန်(၇)၊ ကုန်းဘောင်လမ်း၊မြေတိုင်းရပ်ကွက်အမှတ်(၁၄)၊ မြေကွက်အမှတ်-၃၀ရှိ မြေ (၀.၂၇၅)ဧကနှင့် အဆောက်အဦးအား ငှားရမ်း၍ Myanmar Last Star Co.,Ltd အမည်ဖြင့် CMP စနစ်ဖြင့် အထည်ချုပ်လုပ်ခြင်း လုပ်ငန်း ဆောင်ရွက်ရန် တင်ပြမှုအပေါ် CMPလုပ်ငန်းများ မြေပြင်ကွင်းဆင်းစစ်ဆေးရေးအဖွဲ့ ဥက္ကဋ္ဌ၊ အလုပ်ရုံနှင့် အလုပ်သမားဥပဒေစစ်ဆေးရေးဦးစီးဌာန၊ ညွှန်ကြားရေးမှူးချုပ် ဦးဝင်းရှိန်နှင့် အထည်ချုပ်စက်ရုံ အမှတ်(၁၇) စက်ရုံမှူး ဒေါ်လှသီတာ တို့သည် ၂၅.၁.၂၀၁၃ ရက်နေ့ (၁၀း၃၀) နာရီတွင် တာဝန်ရှိသူများနှင့် တွေ့ဆုံမေးမြန်းခဲ့ပါသည်။

၂။ Myanmar Last Star Co.,Ltd ၏ အဆိုပြုချက်အား အောက်ပါအတိုင်း စိစစ်တင်ပြအပ်ပါသည် -

(က) **C.M.P ကုန်ကြမ်း လိုအပ်ချက်နှင့် ကုန်ချောထုတ်လုပ်မှု အချိုးအစား ညီညွတ်မှု ရှိ/မရှိ**
အဆိုပြုချက်ပါ ကုန်ကြမ်း လိုအပ်ချက် ဖော်ပြမှုကို စိစစ်ရာ အောက်ပါအတိုင်း တွေ့ရှိရပါသည် -

| **ချုပ်ထည်** | **တစ်ထည် လိုအပ်ချက်နှုန်းထား** | **ပုံမှန်လိုအပ်ချက် နှုန်းထားများကိုက်ညီမှု ရှိ/မရှိ** |
|---|---|---|
| 1. Jackets | 2.8 Yds/pc | ကိုက်ညီမှုရှိပါသည်။ |
| 2. Pants | 1.5 Yds/pc | ״ |
| 3. Knit Shirt | 2.0 Yds/pc | ״ |
| 4. Shirt | 1.5 Yds/pc | ״ |

အဆိုပြုချက်ပါ တစ်နှစ်လုံးအတွက် ကုန်ကြမ်းလိုအပ်ချက်မှာ တစ်ထည်လိုအပ်ချက်နှုန်း၊ တားမြစ်သတ်မှတ်စံနှုန်းများနှင့် ကိုက်ညီမှုရှိကြောင်း တွေ့ရှိရပါသည်။

| **ချုပ်ထည်** | **အဆိုပြုထုတ်လုပ်မှု အရေအတွက်** | **လိုအပ်မည့်ကုန်ကြမ်းအရေအတွက်(ကိုက်) ပုံမှန်စံနှုန်း** |
|---|---|---|
| 1. Jackets | 9000 Dzs | 302400 Yds |
| 2. Pants | 8000 Dzs | 144000 Yds |
| 3. Knit Shirt | 9000 Dzs | 216000 Yds |
| 4. Shirt | 9000 Dzs | 162000 Yds |

ပစ္စည်းအားလုံး ထုတ်လုပ်မည်ဆိုပါက စုစုပေါင်းကုန်ကြမ်း ကိုက် ၈၂၄၄၀၀ ကုန်ကျမည်ဖြစ်၍ ကုန်ကြမ်းလိုအပ်ချက်နှင့် ကုန်ချောထုတ်လုပ်မှု အချိုးအစား ညီညွတ်မှုရှိပါသည်။

(ခ) **C.M.P လက်ခနှုန်းထားများ တင်ပြမှုဆီလျော်မှုရှိ/မရှိ၊** အဆိုပြုချက်ပါ C.M.P လက်ခနှုန်းထားများသည် လက်ရှိရရှိသည့် လက်ခနှုန်းထားနှင့် ဆီလျော်မှုရှိပါသည်-

| ချုပ်ထည် | | အဆိုပြုချက်ပါ CMP လက်ခနှုန်းထား | အထည်ချုပ်အသင်း၏ လက်ရှိCMP လက်ခနှုန်းထား |
|---|---|---|---|
| 1. | Jackets | 14 US$/Dz | 8-12 US$/Dz |
| 2. | Pants | 10 US$/Dz | 8-10 US$/Dz |
| 3. | Knit Shirt | 10 US$/Dz | 6-8 US$/Dz |
| 4. | Shirt | 7.8 US$/Dz | 6-8 US$/Dz |

(ဂ) **နှစ်စဉ်ထုတ်လုပ်မှု၊စက်အင်အား၊လူအင်အားအချိုးအစားညီမျှမှုရှိ/မရှိ၊** အဆိုပြုချက်ပါ ထုတ်လုပ်မည့် ပစ္စည်းမှာ Jackets, Pants, Knit Shirt, Shirt များထုတ်လုပ်ရန် ပါရှိပြီး Single Needle၊ Two Needle , Over Lock M/C ပေါင်း(၁၃၀)လုံး နှင့် Skilled Worker (၁၄၀)ဦး၊ UnSkilled Worker (၃၀)ဦး တွေ့ရှိပြီး Qc , PQc အတွက် တာဝန်ခွဲဝေ ချထားသင့်ပါသည်-

| ချုပ်ထည် | | ကုန်ထုတ်စက် | တစ်ရက် ထုတ်လုပ်နိုင်မှု | တစ်နှစ်ထုတ်လုပ်မှု (၃၁၀)ရက် |
|---|---|---|---|---|
| 1. | Jackets | စက်(၃၅)လုံး | ၂၁၀/၁၀နာရီ | ၅၄၂၅ ဒါဇင် |
| 2. | Pants | စက်(၃၅)လုံး | ၂၈၀/၁၀နာရီ | ၇၂၃၃ ဒါဇင် |
| 3. | Knit Shirt | စက်(၃၀)လုံး | ၃၆၀/၁၀နာရီ | ၉၃၀၀ ဒါဇင် |
| 4. | Shirt | စက်(၃၀)လုံး | ၃၆၀/၁၀နာရီ | ၉၃၀၀ ဒါဇင် |

အဆိုပြုချက်ပါ ထုတ်လုပ်မှု အရေအတွက် အတိုင်း ထုတ်လုပ်ရန်အတွက် စက်လိုင်းများကို အဆင်သင့်သလို အသုံးပြုသင့်ပါသည်-

| ချုပ်ထည် | | အဆိုပြုထုတ်လုပ်မှု အရေအတွက် | တစ်နှစ်ထုတ်လုပ်နိုင်မှု ပမာဏ(ဒါဇင်) |
|---|---|---|---|
| 1. | Jackets | 9000 Dzs | 5425-5500 |
| 2. | Pants | 8000 Dzs | 7233-7500 |
| 3. | Knit Shirt | 9000 Dzs | 9300-9500 |
| 4. | Shirt | 9000 Dzs | 9300-9500 |

၃။ Myanmar Last Star Co., Ltd အနေဖြင့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ခွင့်ပြုချက်ရရှိပါက အလုပ်အကိုင်အခွင့်အလမ်းများ ပိုမိုရရှိစေပြီး ဆင်းရဲနွမ်းပါးမှုလျော့ချရေးကို အထောက်အကူပြုနိုင် မည်ဖြစ်၍ CMP စနစ်ဖြင့် အထည်ချုပ်လုပ်ခြင်း လုပ်ငန်း လုပ်ကိုင်ခွင့်ကို အားပေးဆောင်ရွက် သင့်ပါကြောင်း သဘောထားမှတ်ချက် တင်ပြအပ်ပါသည်။

ဥက္ကဋ္ဌ(ကိုယ်စား)
(မြင့်သိန်း၊ အတွင်းရေးမှူး)
(ဒုတိယဝန်ကြီး၊ အလုပ်သမား၊ အလုပ်အကိုင်နှင့်လူမှုဖူလုံရေးဝန်ကြီးဌာန)

ထို့ကို

- အလုပ်သမားညွှန်ကြားရေးဦးစီးဌာန
  (CMP လုပ်ငန်းများ စစ်ဆေးရေးဆပ်ကော်မတီ)
- အလုပ်ရုံနှင့်အလုပ်သမားဥပဒေစစ်ဆေးရေးဦးစီးဌာန
  (CMP လုပ်ငန်းများ မြေပြင်ကွင်းဆင်းစစ်ဆေးရေးအဖွဲ့)
- Myanmar Last Star Co., Ltd
- ရုံးလက်ခံ
- မျှောစာတွဲ

နောက်ဆက်တွဲ (ဂ)


# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံ
# ကုန်သည်များနှင့်စက်မှုလက်မှုလုပ်ငန်းရှင်များအသင်းချုပ်

အမှတ် (၂၉)၊ မင်းရဲကျော်စွာလမ်း၊ လမ်းမတော်မြို့နယ်၊ ရန်ကုန်မြို့။

ဖုန်း - ၂၁၄၃၄၄/ ၂၁၄၃၄၅/ ၂၁၄၃၄၆/ ၂၁၄၃၄၇/ ၂၁၄၃၄၈/ ၂၁၄၃၄၉။ ဖက်(စ်) - ၉၅-၁-၂၁၄၄၈၄


စာအမှတ်။ ဂ/၄-ခ/(၄၄)/(ဝန်ဆောင်)/၁၁-၁၃(၆၂၅၄

ရက်စွဲ ။ ၂၀၁၃ ခုနှစ်၊ မတ်လ (၅) ရက်။

သို့

ဥက္ကဋ္ဌ

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်

နေပြည်တော်

အကြောင်းအရာ။ ။**သဘောထားမှတ်ချက် တောင်းခံခြင်းကိစ္စ**။

ရည်ညွှန်းချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင် ၏ 17-1-2013 ရက်စွဲပါ စာအမှတ်ရက-၆(က)/မ-၁၂၉၈/၂၀၁၃(၉၇၉)

၁။ Myanmar Last Star Co.,Ltd သည် ရန်ကုန်တိုင်းဒေသကြီး၊ လှိုင်သာယာမြို့နယ်၊ လှိုင်သာယာ စက်မှုဇုန်(၇)၊ကုန်းဘောင်လမ်း၊ မြေတိုင်းရပ်ကွက်အမှတ်-၁၄၊မြေကွက်အမှတ်-၃၀ရှိမြေ(၀.၂၇၅)ဧကနှင့် အဆောက်အဦအားငှားရမ်း၍ CMP စနစ်ဖြင့် အထည်ချုပ်လုပ်သည့်လုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် ရည်ညွှန်းစာဖြင့် ဤအသင်းချုပ်သို့ သဘောထားမှတ်ချက် ပြန်ကြားပေးပါရန် ညှိနှိုင်းမေတ္တာရပ်ခံစာ ကိုလက်ခံရရှိပါသည်။

၂။ ဤအသင်းချုပ်မှ စိစစ်ခဲ့ရာ Myanmar Last Star Co.,Ltd သည် ရန်ကုန်တိုင်းဒေသကြီး၊ လှိုင်သာယာမြို့နယ်၊ လှိုင်သာယာစက်မှုဇုန်(၇)၊ကုန်းဘောင်လမ်း၊မြေတိုင်းရပ်ကွက်အမှတ်-၁၄၊မြေကွက်အမှတ်-၃၀ရှိ မြေ(၀.၂၇၅)ဧကနှင့် အဆောက်အဦအားငှားရမ်း၍ CMP စနစ်ဖြင့် အထည်ချုပ်လုပ်သည့်လုပ်ငန်းကို လုပ်ကိုင်ရန်အတွက် မြေကွက်အမည်ပေါက် ဦးကြည်ဝင်းမှ Myanmar Last Star Co.,Ltd သို့ ငှားရမ်းထားကြောင်းနှင့် စက်ရုံတည်ရှိသည်မှာမှန်ကန်ကြောင်းကို လှိုင်သာယာ စက်မှုမြို့စီမံခန့်ခွဲရေးကော်မတီမှ ၂၀၁၃ခုနှစ်၊ ဖေဖော်ဝါရီလ (၁၃) ရက်စွဲပါစာအမှတ် လသယ/စမမ/ထခ/ ၂၀၁၃ (၀၂၀) ဖြင့်ထောက်ခံချက်နှင့်အတူ Myanmar Last Star Co.,Ltd (မြန်မာကုမ္ပဏီ) နှင့် CMP Contract ချုပ်ဆိုထားသည့် Chin Phong Viet Nam Co.,ltd (ဗီယက်နမ်နိုင်ငံ) ၏ Company Profile စသည့် အထောက်အထားများ ကိုတင်ပြလာပါသည်။

၃။ သို့ဖြစ်ပါ၍ Myanmar Last Star Co.,Ltd သည် ရန်ကုန်တိုင်းဒေသကြီး၊ လှိုင်သာယာမြို့နယ်၊ လှိုင်သာယာ စက်မှုဇုန်(၇)၊ကုန်းဘောင်လမ်း၊မြေတိုင်းရပ်ကွက်အမှတ်-၁၄၊မြေကွက်အမှတ်-၃၀ရှိမြေ(၀.၂၇၅)ဧကနှင့် အဆောက်အဦအားငှားရမ်း၍ CMP စနစ်ဖြင့် အထည်ချုပ်လုပ်သည့်လုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ လျှောက်ထားခြင်းအပေါ် ဤအသင်းချုပ်အနေဖြင့် ကန့်ကွက်ရန်မရှိပါကြောင်း ထောက်ခံတင်ပြအပ်ပါသည်။

ဥက္ကဋ္ဌ ( ကိုယ်စား )

(ဒေါက်တာမျိုးသက်၊အထွေထွေအတွင်းရေးမှူး)

မိတ္တူကို-

- လက်ခံစာတွဲ၊မျှောစာတွဲ

D/j ၂၁/၁၉/၂

M-196
19.2.13

နောက်ဆက်တွဲ (ဃ)

**ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ**
**ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန**
**ပြည်ထောင်စုဝန်ကြီးရုံး**

**စာအမှတ်** ၂/၂၂၀(ခ)(၆)/( ၁၂၀၁ /၂၀၁၃)
**ရက်စွဲ** ၂၀၁၃ခုနှစ်၊ ဖေဖော်ဝါရီလ ၁၉ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ ။ Myanmar Last Star Co.Ltd တည်ထောင်၍ CMP စနစ်ဖြင့် အထည်ချုပ်လုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြခြင်းကိစ္စ

ရည် ညွှန်း ချက် ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင် ၁၇-၁-၂၀၁၃ရက်နေ့စွဲပါ စာအမှတ်၊ ရက - ၆ (က) / မ - ၁၂၉၈ / ၂၀၁၃ (၉၇၈)

၁။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ Myanmar Last Star Co.Ltd. သို့ မြန်မာနိုင်ငံတွင် မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဖြင့် Myanmar Last Star Co.Ltd. တည်ထောင်၍ ရန်ကုန်တိုင်းဒေသကြီး၊ လှိုင်သာယာမြို့နယ်၊ လှိုင်သာယာစက်မှုဇုန်(၇)၊ ကုန်းဘောင်လမ်း၊ မြေတိုင်းရပ်ကွက်၊ အမှတ် ၁၄၊ မြေကွက်အမှတ် ၃၀ ရှိမြေ (၀.၁၇၅)ဧကနှင့် အဆောက်အဦးအား ငှားရမ်း၍ CMP စနစ်ဖြင့် အထည်ချုပ်လုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန်ကိစ္စနှင့်ပတ်သက်၍ ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန သဘောထားမှတ်ချက်ကို ပြန်ကြားအပ်ပါသည်။

၂။ ပူးတွဲပေးပို့လာသည့်အဆိုပြုလွှာအား စိစစ်ရာတွင် နိုင်ငံခြားရင်းနှီးမြှုပ်နှံခွင့် လျှောက်ထားခြင်း၊ စက်ရုံဝန်ထမ်းများသက်သာချောင်ချိရေးနှင့် လုပ်ငန်းခွင်သာယာရေးအတွက် စီစဉ်ဆောင်ရွက်ထားမှုများ၊ မီးဘေးကြိုတင်ကာကွယ်ရေး စီမံချက်ထားရှိမည်ဖြစ်ကြောင်း ဝန်ခံကတိပြုချက်၊ အထည်ချုပ်စက်ရုံ ပုံစံ၊ ကုမ္ပဏီသင်းဖွဲ့မှတ်တမ်း၊ သင်းဖွဲ့စည်းမျဉ်း ၊ ဝန်ထမ်းအင်အား၊ အသုံးပြုမည့်စက်ပစ္စည်းစာရင်းများ၊ မြေနှင့်အဆောက်အဦးငှားစာချုပ် စသည်တို့နှင့်ပတ်သက်သည့် အချက်အလက်များကိုသာတွေ့ရှိရပြီး အထည်ချုပ်စက်ရုံ လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်ပျက်စီးမှုမရှိအောင် ဆောင်ရွက်မည့် စီမံချက်များ ဖော်ပြထားခြင်းမရှိကြောင်း စိစစ်တွေ့ရှိရပါသည်။

၃။ အထည်ချုပ်လုပ်ငန်းတွင် အသုံးပြုမည့်ကုန်ကြမ်းပစ္စည်းများတွင် အသုံးပြုမည့်ပိတ်စ အမျိုးအစားများကို ဖော်ပြထားခြင်းမရှိပါ။ အထည်ချုပ်စက်ရုံများတွင် အသုံးပြုသည့် ပိတ်စများ

အနေဖြင့် Nylon/Polyester, Rayon, Cotton Wool, Leather အစရှိသည့် Synthethic နှင့် Natural ကုန်ကြမ်းအမျိုးအစားများစွာရှိရာ Synthethic ပိတ်စများသည် ဆွေးမြေ့ပျက်စီးရန် အချိန်ကြာမြင့် ကာ Natural ပိတ်အမျိုးအစားများထက် ပတ်ဝန်းကျင်ထိခိုက်မှု ရှိနိုင်ပါသည်။ ယင်းကုန်ကြမ်းပစ္စည်း များအသုံးပြု၍ ကုန်ပစ္စည်းထုတ်လုပ်ခြင်းမှထွက်ရှိလာမည့် အမှုန်အမွှား များ၊ စွန့်ပစ်ပစ္စည်းများ၊ စွန့်ပစ်အရည်များ စသည်တို့ကြောင့် လေထု၊ မြေထု၊ ရေထု ညစ်ညမ်းမှု ဖြစ်နိုင်သဖြင့် စွန့်ပစ်ပစ္စည်းစီမံခန့်ခွဲမှုစီမံချက်များ ရှိရန်လိုအပ်ပါသဖြင့် အသုံးပြုမည့် ပိတ်စ အမျိုးအစားအား အတိအကျဖော်ပြသင့်ပါသည်။ ထို့အပြင် စက်ပစ္စည်းများ ကြောင့်ဖြစ်ပေါ်မည့် အသံဆူညံမှုများ၊ စက်ရုံမှ ထွက်ရှိလာမည့် ရေဆိုးစွန့်ပစ်မှုအတွက် စီမံထားရှိမှု၊ ကိုယ်ပိုင်မီးစက် လည်ပတ်ရန်နှင့် မော်တော်ယာဉ်များ အတွက် စက်ဆီ/ချောဆီ စနစ်တကျသိုလှောင်ထားရှိမှု အစီအမံများထားရှိရန် လိုအပ်ပါသည်။

၄။ သို့ဖြစ်ပါ၍ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ Myanmar Last Star Co.Ltd. သို့ မြန်မာနိုင်ငံတွင် မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဖြင့် Myanmar Last Star Co.Ltd. တည်ထောင်၍ ရန်ကုန်တိုင်းဒေသကြီး၊ လှိုင်သာယာမြို့နယ်၊ လှိုင်သာယာစက်မှုဇုန်(၇)၊ ကုန်းဘောင်လမ်း၊ မြေတိုင်းရပ်ကွက်၊ အမှတ် ၁၄၊ မြေကွက်အမှတ် ၃၀ ရှိမြေ (၀.၁၇၅)ဧကနှင့် အဆောက်အဦးအား ငှားရမ်း၍ CMP စနစ်ဖြင့် အထည်ချုပ်လုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန်ကိစ္စနှင့်ပတ်သက်၍ အောက်ဖော်ပြပါအချက်များအတိုင်း လိုက်နာဆောင်ရွက်ရန်လိုအပ်မည်ဖြစ်ပါကြောင်း သဘောထား မှတ်ချက် ပြန်ကြားအပ်ပါသည်-

(က) အထည်ချုပ်လုပ်ငန်းကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်ထိခိုက်ပျက်စီးမှုများကို လေ့လာစိစစ်နိုင်ရန်အတွက် လုပ်ငန်းလည်ပတ်ခြင်းနှင့် ထုတ်လုပ်ခြင်းအဆင့်ဆင့်တို့၏ စီမံကိန်းဆိုင်ရာအချက်အလက်များ ပြည့်စုံစွာဖော်ပြရန်၊

(ခ) ကုန်ပစ္စည်းထုတ်လုပ်ခြင်းမှ ထွက်ရှိလာမည့် အမှုန်အမွှားများ၊ စွန့်ပစ်ပစ္စည်းများနှင့် ရေဆိုးများကြောင့် ပတ်ဝန်းကျင် လေထု၊ ရေထုနှင့် မြေထု ညစ်ညမ်းမှုများ ဖြစ်ပေါ်လာနိုင်ပါသဖြင့် ပတ်ဝန်းကျင်ညစ်ညမ်းမှု မရှိစေရန်နှင့် လူတို့၏ကျန်းမာရေးကို မထိခိုက် စေသည့်စီမံချက်များ ထည့်သွင်းရေးဆွဲ ဆောင်ရွက်ရန်အတွက် သဘာဝပတ်ဝန်းကျင် ထိခိုက်ပျက်စီးမှုရှိ-မရှိကို ကြိုတင်လေ့လာဆန်းစစ်မှု (Initial Environmental Examination-IEE) ဆောင်ရွက်ပြီး၊ တွေ့ရှိချက်များအပေါ်အခြေခံ၍ ပတ်ဝန်းကျင် ထိန်းသိမ်းရေး

# MYANMAR LAST STAR COMPANY LIMITED

P.11 . Myakanthar 5 Street , 5 ward , Hlaing Town Ship , Yangon .

Phone ; 09 - 8628432 , 09 - 5019740


Myanmar Last Star
No............
Date............

သို့
ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
နေပြည်တော်။

နေ့စွဲ ။ ။၂၀၁၃ ခုနှစ်၊ မတ်လ၊ ( ၇ )ရက်။

အကြောင်းအရာ။ ။ပတ်ဝန်းကျင်သဘာဝထားနှင့်အညီပြင်ဆင်တင်ပြမည်ဖြစ်ကြောင်းဝန်ခံကတိပြု တင်ပြခြင်း။

ရည်ညွှန်းချက် ။ ။၂၈-၂-၂၀၁၃ နေ့စွဲပါစာအမှတ် – ရက-၆(က)/မ-၁၂၉၈/၂၀၁၃(၂၇၅၄)

အထက်ပါအကြောင်းအရာနှင့် ပါတ်သက်၍ မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှု ဥပဒေအရ ကျွန်မတို့၏ မြန်မာ နောက်ဆုံး ကြယ်ပွင့် ကုမ္ပဏီ လီမိတက် သည် မြေကွက်အမှတ်- ၃၀၊ မြေတိုင်းရပ်ကွက်အမှတ်-၁၄၊ ကုန်းဘောင်လမ်း၊ လှိုင်သာယာစက်မှုဇုန် (၇)၊ လှိုင်သာယာမြို့နယ်၊ ရန်ကုန် ရှိ (၀.၂၇၅) ဧက ၊အကျယ်အဝန်း ရှိသော မြေပေါ်တွင် CMP စံနစ်ဖြင့် အသင့်ချုပ်ပြီးအထည်အမျိုးမျိုးထုတ်လုပ်သည့် နိုင်ငံတကာအဆင့်မှီ စက်ရုံတည်ထောင်ပြီး ပြည်ထောင်စု မြန်မာနိုင်ငံ တော်တွင် အရည်အသွေး ကောင်းမွန်သော အထည်အမျိုးမျိုးတို့ ချုပ်လုပ်ပြီး ပြည်ပသို့ ရောင်းချနိုင်ရန်အတွက် ရည်ရွယ်၍ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ခွင့်ပြုမိန့်ကို လျှောက်ထားသော ကုမ္ပဏီ ဖြစ်ပါသည်။

အထည်ချုပ်လုပ်ငန်းကြောင့်ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်ထိခိုက်ပျက်စီးမှုများကို လေ့လာ စိစစ်နိုင်ရန်အတွက်လုပ်ငန်းလည်ပတ်ခြင်းနှင့်ထုတ်လုပ်ခြင်းအဆင့်ဆင့်တို့၏စီမံကိန်းဆိုင်ရာ အချက်အလက်များကိုလည်း ပြည့်စုံစွာ ဆောင်ရွက်သွားပါမည်ဟုဝန်ခံကတိပြုအပ်ပါသည်။

ကုန်ပစ္စည်းထုတ်လုပ်ခြင်းမှ ထွက်ရှိလာမည့်အမှုန်အမွှားများ၊စွန့်ပစ်ပစ္စည်းများနှင့်ရေဆိုးများကြောင့် ပတ်ဝန်းကျင် လေထု၊ရေထုနှင့် မြေကြီးညစ်ညမ်းမှုများ ဖြစ်ပေါ်လာနိုင်ပါသဖြင့်ပတ်ဝန်းကျင် ညစ်ညမ်းမှု မရှိစေရန်နှင့်လူတို့၏ ကျန်းမာရေးကို မထိခိုက်စေသည့် စီမံချက်များထည့်သွင်းရေးဆွဲဆောင်ရွက်ရန်အတွက် သဘာဝပတ်ဝန်းကျင် ထိခိုက်ပျက်စီးမှု ရှိ/မရှိကြိုတင်လေ့လာဆန်းစစ်မှု (Initial Environmental Examination - IEE )ဆောင်ရွက်ပြီး တွေ့ရှိချက်များအပေါ် အခြေခံ၍ပတ်ဝန်းကျင်ထိန်းသိမ်းရေးစီမံချက် (Environmental Management Paln -EMP)ကိုရေးဆွဲတင်ပြပြီး စီမံချက်ပါအတိုင်း အကောင်အထည်ဖော်ဆောင်ရွက်သွားပါမည်ဟုဝန်ခံကတိပြုအပ်ပါသည်။

နိုင်ငံတော်မှ ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင်ထိန်းသိမ်းရေးဆိုင်ရာ မူဝါဒ၊ ပတ်ဝန်းကျင် ထိန်းသိမ်းရေး ဥပဒေတို့နှင့်အညီလိုက်နာအကောင်အထည်ဖော်ဆက်လက် ဆောင်ရွက် သွားပါမည်ဟုဝန်ခံကတိပြုအပ်ပါသည်။

လေးစားစွာဖြင့်

U Aung Myo Htike
Director
Myanmar Last Star Co., Ltd.

# MYANMAR LAST STAR COMPANY LIMITED

P .11 . Myakanthar 5 Street , 5 ward , Hlaing Town Ship , Yangon .

Phone ; 09 - 8628432 , 09 - 5019740


---

သို့

ဥက္ကဌ

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

နေပြည်တော်။

နေ့စွဲ ။ ။၂၀၁၃ ခုနှစ် ၊ မတ် လ ၊ (၂၀ ) ရက်။

အကြောင်းအရာ။ ။ ပတ်ဝန်းကျင်သဘောထားနှင့်အညီပြင်ဆင်တင်ပြမည်ဖြစ်ကြောင်းဝန်ခံကတိပြု တင်ပြခြင်း။

ရည်ညွှန်းချက် ။ ။ ၂၈–၂–၂၀၁၃ နေ့စွဲပါစာအမှတ် – ရက–၆(က)/မ–၁၂၉၈/၂၀၁၃(၂၇၅၄)

အထက်ပါအကြောင်းအရာနှင့် ပါတ်သက်၍ မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှု ဥပဒေအရ ကျွန်မတို့၏ မြန်မာ နောက်ဆုံး ကြယ်ပွင့် ကုမ္ပဏီ လီမိတက် သည် မြေကွက်အမှတ်– ၃၀၊ မြေတိုင်းရပ်ကွက်အမှတ်–၁၄၊ ကုန်းဘောင်လမ်း၊ လှိုင်သာယာစက်မှုဇုန် (၇)၊ လှိုင်သာယာမြို့နယ်၊ ရန်ကုန် ရှိ (၀.၂၇၅) ဧက ၊အကျယ်အဝန်း ရှိသော မြေပေါ်တွင် CMP စံနစ်ဖြင့် အသင့်ချုပ်ပြီးအထည်အမျိုးမျိုးထုတ်လုပ်သည့် နိုင်ငံတကာအဆင့်မှီ စက်ရုံတည်ထောင်ပြီး ပြည်ထောင်စု မြန်မာနိုင်ငံ တော်တွင် အရည်အသွေး ကောင်းမွန်သော အထည်အမျိုးမျိုးကို ချုပ်လုပ်ပြီး ပြည်ပသို့ ရောင်းချနိုင်ရန်အတွက် ရည်ရွယ်၍ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ခွင့်ပြုမိန့်ကို လျှောက်ထားသော ကုမ္ပဏီ ဖြစ်ပါသည်။

အထည်ချုပ်လုပ်ငန်းကြောင့်ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်ထိခိုက်ပျက်စီးမှုများကို လေ့လာ စီစစ်နိုင်ရန်အတွက်လုပ်ငန်းလည်ပတ်ခြင်းနှင့်ထုတ်လုပ်ခြင်းအဆင့်ဆင့်တို့၏စီမံကိန်းဆိုင်ရာ အချက်အလက်များကိုလည်း ပြည့်စုံစွာ ဆောင်ရွက်သွားပါမည်ဟုဝန်ခံကတိပြုအပ်ပါသည်။

ကုန်ပစ္စည်းထုတ်လုပ်ခြင်းမှ ထွက်ရှိလာမည့်အမှုန်အမွှားများ၊စွန့်ပစ်ပစ္စည်းများနှင့်ရေဆိုးများကြောင့် ပတ်ဝန်းကျင် လေထု၊ရေထုနှင့် မြေထုညစ်ညမ်းမှုများ ဖြစ်ပေါ်လာနိုင်ပါသဖြင့်ပတ်ဝန်းကျင် ညစ်ညမ်းမှု မရှိစေရန်နှင့်လူတို့၏ ကျန်းမာရေးကို မထိခိုက်စေသည့် စီမံချက်များထည့်သွင်းရေးဆွဲဆောင်ရွက်ရန်အတွက် သဘာဝပတ်ဝန်းကျင် ထိခိုက်ပျက်စီးမှု ရှိ/မရှိကြိုတင်လေ့လာဆန်းစစ်မှု (Initial Environmental Examination - IEE )ဆောင်ရွက်ပြီး တွေ့ရှိချက်များအပေါ် အခြေခံ၍ပတ်ဝန်းကျင်ထိန်းသိမ်းရေးစီမံချက် (Environmental Management Paln -EMP)ကိုရေးဆွဲတင်ပြပြီး စီမံချက်ပါအတိုင်းအကောင်အထည်ဖော်ဆောင်ရွက်သွားပါမည်ဟုဝန်ခံကတိပြုအပ်ပါသည်။

နိုင်ငံတော်မှ ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင်ထိန်းသိမ်းရေးဆိုင်ရာ မူဝါဒ၊ ပတ်ဝန်းကျင် ထိန်းသိမ်းရေး ဥပဒေတို့နှင့်အညီလိုက်နာအကောင်အထည်ဖော်ဆက်လက် ဆောင်ရွက် သွားပါမည်ဟုဝန်ခံကတိပြုအပ်ပါသည်။

လေးစားစွာဖြင့်

Than

Daw Than Than Aye

Managing Director

Myanmar Last Star Co., Ltd.

နောက်ဆက်တွဲ (င)

# ပြည်ထောင်စုမြန်မာနိုင်ငံအတွင်း မြန်မာနိုင်ငံသားများ

## ရင်းနှီးမြှုပ်နှံမှု ပြုလုပ်ရန် ရင်းနှီးမြှုပ်နှံလိုသူ၏ ဆောင်ရွက်ရန်

## အဆိုပြုချက်

မြန်မာ နောက်ဆုံး ကြယ်ပွင့် ကုမ္ပဏီ လီမိတက်

**MYANMAR LAST STAR CO.,LTD**

(CMP စံနစ်ဖြင့်အထည်အမျိုးမျိုးထုတ်လုပ်ခြင်းလုပ်ငန်း)

# MYANMAR LAST STAR COMPANY LIMITED

P.11 . Myakanthar 5 Street , 5 ward , Hlaing Town Ship , Yangon .
Phone ; 09 - 8628432 , 09 - 5019740


---

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
နေပြည်တော်။

နေ့စွဲ ။ ။ ၂၀၁၃ ခုနှစ် ၊ ဇန်နဝါရီ လ ၊ ( ၁၃ ) ရက်။

အကြောင်းအရာ။ ။မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြုချက်များ အကြိုစိစစ်ပေးနိုင်ရန် တင်ပြခြင်း။

အထက်ပါအကြောင်းအရာနှင့် ပါတ်သက်၍ မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှု ဥပဒေအရ ကျွန်မတို့၏ မြန်မာ နောက်ဆုံး ကြယ်ပွင့် ကုမ္ပဏီ လီမိတက် သည် မြေကွက်အမှတ်– ၃၀၊ မြေတိုင်းရပ်ကွက်အမှတ်–၁၄၊ ကုန်းဘောင်လမ်း၊ လှိုင်သာယာစက်မှုဇုန် (၇)၊ လှိုင်သာယာမြို့နယ်၊ ရန်ကုန် ရှိ (၀.၂၇၅) ဧက ၊အကျယ်အဝန်း ရှိသော မြေပေါ်တွင် CMP စံနစ်ဖြင့် အသင့်ချုပ်ပြီးအထည်အမျိုးမျိုးထုတ်လုပ်သည့် နိုင်ငံတကာအဆင့်မှီ စက်ရုံတည်ထောင်ပြီး ပြည်ထောင်စု မြန်မာနိုင်ငံ တော်တွင် အရည်အသွေး ကောင်းမွန်သော အထည်အမျိုးမျိုးကို ချုပ်လုပ်ပြီး ပြည်ပသို့ ရောင်းချနိုင်ရန်အတွက် ရည်ရွယ်၍ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ခွင့်ပြုမိန့်ကို လျှောက်ထားသော ကုမ္ပဏီ ဖြစ်ပါသည်။

သို့ဖြစ်ပါ၍ ကျွန်မ တို့ ကုမ္ပဏီ၏ အဆိုပြုလွှာကို လိုအပ်သလို စိစစ်ပေးနိုင်ရန် အတွက် အဆိုပြုလွှာ (၁၅) စုံကို ပေးပို့ တင်ပြအပ်ပါသည်။

လေးစားစွာဖြင့်

Daw Than Than Aye
Managing Director
Myanmar Last Star Co., Ltd.

# MYANMAR LAST STAR COMPANY LIMITED

P.11 . Myakanthar 5 Street , 5 ward , Hlaing Town Ship , Yangon .

Phone ; 09 - 8628432 , 09 - 5019740


---

သို့

ဥက္ကဋ္ဌ

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

နေပြည်တော်။

နေ့စွဲ ။ ။ ၂၀၁၃ ခုနှစ် ၊ ဇန်နဝါရီ လ ၊ ( ၁၃ ) ရက်။

အကြောင်းအရာ။ ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ လုပ်ငန်းဆောင်ရွက်ခြင်းနှင့် ပါတ်သက်၍ ကတိခံဝန်ချက်ပေးပို့ခြင်း။

အထက်ပါအကြောင်းအရာနှင့် ပါတ်သက်၍ မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှု ဥပဒေအရ ကျွန်မတို့၏ မြန်မာ နောက်ဆုံး ကြယ်ပွင့် ကုမ္ပဏီ လီမိတက် သည် မြေကွက်အမှတ်– ၃၀၊ မြေတိုင်းရပ်ကွက်အမှတ်–၁၄၊ ကုန်းဘောင်လမ်း၊ လှိုင်သာယာစက်မှုဇုန် (၇)၊ လှိုင်သာယာမြို့နယ်၊ ရန်ကုန် ရှိ (၀.၂၇၅) ဧက ၊အကျယ်အဝန်း ရှိသော မြေပေါ်တွင် CMP စံနစ်ဖြင့် အသင့်ချုပ်ပြီးအထည်အမျိုးမျိုးထုတ်လုပ်သည့် နိုင်ငံတကာအဆင့်မှီ စက်ရုံတည်ထောင်ပြီး ပြည်ထောင်စု မြန်မာနိုင်ငံ တော်တွင် အရည်အသွေး ကောင်းမွန်သော အထည်အမျိုးမျိုးကို ချုပ်လုပ်ပြီး ပြည်ပသို့ ရောင်းချနိုင်ရန်အတွက် ရည်ရွယ်၍ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ခွင့်ပြုမိန့်ကို လျှောက်ထားသော ကုမ္ပဏီ ဖြစ်ပါသည်။

၎င်းလုပ်ငန်းသည် မြန်မာနိုင်ငံသားများသာလျှင် ပိုင်ဆိုင်သော လုပ်ငန်းဖြစ်ပါသည်။ ၎င်းလုပ်ငန်းတွင် နိုင်ငံခြားမှ နိုင်ငံခြားသားမည်သူမျှ ပိုင်ဆိုင်မှု မရှိပါကြောင်းနှင့် အောက်ပါအချက်များကို သိရှိလိုက်နာမည်ဖြစ်ပါကြောင်း ဝန်ခံကတိပြုပါသည်။

၁။ မြေငှားရမ်းခြင်းနှင့်ပတ်သက်၍ နိုင်ငံတော်အစိုးရမှ မြေယာနှင့်ပတ်သက်၍ သတ်မှတ်ပြဌာန်းမည့် စည်းကမ်းချက်များကို လိုက်နာဆောင်ရွက်ပါမည်ဟုဝန်ခံကတိပြုပါသည်။

၂။ ကုမ္ပဏီအနေဖြင့် လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ညစ်ညမ်းမှု မဖြစ်ပွားစေရန်အတွက် လိုအပ်သောအစီအမံများ ကြိုတင်ကာကွယ်မှုများပြုလုပ်ဆောင်ရွက်ထားမည်ဖြစ်ကြောင်းနှင့်မီးဘေး အန္တရာယ်အတွက် လိုအပ်သော စီမံထားမှု၊ ကြိုတင်ကာကွယ်မှုများ ပြုလုပ်ဆောင်ရွက်မည်ဖြစ်ကြောင်း ဝန်ခံကတိပြုတင်ပြအပ် ပါသည်။

၃။ စက်ရုံအလုပ်သမားအရေအတွက်မှာ (၁၉၀) ဦးဖြစ်ပါသည်။ဝန်ထမ်းများ စားသောက်နိုင်ရန်အတွက်ထမင်းစားဆောင် (၁) ဆောင်ထားရှိပြီး၊ အိပ်ဆောင် (၁) ဆောင်၊ ရေအိမ် (၁၅) လုံးထားရှိပါသည်။

၄။ အလုပ်သမားတစ်ဦးအားတစ်လလျှင် လုပ်ခပေးမည့်ပုံစံနှင့်လုပ်ခနှုန်းအားနောက်ဆက်တွဲဇယားဖြင့်ဖော်ပြမည်ဖြစ်ပြီး ၎င်းလစာနှုန်းများသည်အလုပ်သမားများအမှန်တကယ်ရရှိမည့်လုပ်ခများဖြစ်ပါသည်။ အဆိုပါလုပ်ခနှုန်းများသည် အလုပ်သမားများအမှန်တကယ်ရရှိမည့်လစာငွေဖြစ်ကြောင်းနှင့် ကာလဒေသ ပေါက်ဈေးနှင့်ကိုက်ညီမှု့ရှိကြောင်း တင်ပြအပ်ပါသည်။

